၅။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး (၃၀) နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၆) လ ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၆။ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ် ၂၅၀၀ သန်း ဖြစ်ပြီး အောက်ပါအတိုင်းဖော်ပြထားပါသည်-

| | | | | |
|---|---|---|---|---|
| (က) | ငွေသား | - | ၇၂၄.၄၅၀ | ကျပ်သန်း |
| (ခ) | စက်ပစ္စည်း | - | ၁၃၅၀.၅၈၀ | ကျပ်သန်း |
| (ဂ) | ရုံးပရိဘောဂနှင့်အသုံးအဆောင်ပစ္စည်း | - | ၂၄.၉၇၀ | ကျပ်သန်း |
| (ဃ) | အဆောက်အဦကုန်ကျစရိတ် | - | ၄၀၀.၀၀၀ | ကျပ်သန်း |
| | **စုစုပေါင်း** | - | **၂၅၀၀.၀၀၀** | **ကျပ်သန်း** |

၇။ လုပ်ငန်းကြောင့် ဒေသခံပြည်တွင်းဝန်ထမ်း(၄၀)ဦး၊ ပြည်ပဝန်ထမ်း(၃)ဦး၊ စုစုပေါင်း(၄၃)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်ပါသည်။ပြည်တွင်းဝန်ထမ်းများ၏ အမြင့်ဆုံးလစာမှာ(၅၀၀၀၀၀ိ/-) ဖြစ်ပြီး အနိမ့်ဆုံးလစာမှာ(၁၅၀၀၀၀ိ/-) ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းပညာရှင်များအတွက် အမြင့်ဆုံးလစာ(၂၀၀၀၀၀၀ိ/-)ဖြစ်ပြီး အနိမ့်ဆုံးလစာမှာ(၁၀၀၀၀၀၀ိ/-)ဖြစ်ပါသည်။အခွန်ဥပဒေနှင့်အညီ ပြည်တွင်း/ ပြည်ပဝန်ထမ်းများ၏ လစာမှဝင်ငွေခွန်ကို ကုမ္ပဏီမှတာဝန်ယူကောက်ခံ ပေးသွင်းသွားမည်ဖြစ်ကြောင်းကတိဝန်ခံချက်နှင့် ပြည်တွင်းဝန်ထမ်းများအတွက် အနိမ့်ဆုံးလုပ်ခလစာဥပဒေ သတ်မှတ်ချက်နှင့်အညီ သတ်မှတ်ကျခံပေးမည်ဖြစ်ကြောင်း ကတိဝန်ခံချက် ဖော်ပြပါရှိပါသည်။

၈။ လုပ်ငန်းမှထွက်ရှိသော အထပ်သား/အထပ်သားလွှာနှင့် ရာဘာသစ်ခွဲသားများကို ပြည်တွင်း(၁၀၀%)ရာနှုန်းပြည့်တင်ပို့ရောင်းချမည် ဖြစ်ပါသည်။ ထုတ်လုပ်မှုပစ္စည်းနမူနာများ ပူးတွဲတင်ပြထားပါသည်။ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | တစ်နှစ်ထုတ်လုပ်မှုအရေအတွက် (CBM) | ဈေးနှုန်း (ကျပ်/CBM) |
|---|---|---|---|
| (က) | အထပ်သားလွှာ/အထပ်သား | ၁၄၄၀၀ | - |
| (ခ) | ရာဘာသစ်ခွဲသား | ၁၈၀၀၀ | - |

၉။ လုပ်ငန်းအတွက် လျှပ်စစ်ဓါတ်အားအသုံးပြုရာတွင် Generator (350) KVA (၁) လုံး၊ Generator (625) KVA (၁) လုံး၊ Generator (500) KVA (၁) လုံး၊ Generator (250) KVA (၁) လုံး၊ စုစုပေါင်း Generator (၄) လုံး အသုံးပြု ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၁၀။ လုပ်ငန်းအတွက် နှစ်စဉ်စက်သုံးဆီလိုအပ်ချက်မှာ ဒီဇယ်(၇၂၀၀၀)ဂါလန်ဖြစ်ပြီး လုပ်ငန်းသုံး နှင့် မီးဘေးကာကွယ်ရေးအတွက် အဝီစိတွင်း(၁)တွင်း တူးဖော်ဆောင်ရွက်မည်

ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။ စက်ရုံ အဆောက်အဦပုံစံ၊ ထုတ်လုပ်မည့်နည်းစနစ်၊ မီးဘေးစီမံချက်နှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်များ တင်ပြထားပါသည်။

၁၁။ သစ်တောဦးစီးဌာန၏ သစ်စက် (Saw mill) လိုင်စင်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန၏ ပုဂ္ဂလိကစက်မှုလုပ်ငန်းမှတ်ပုံတင်၊ လျှပ်စစ်အန္တရာယ် ကင်းရှင်းကြောင်း လက်မှတ်နှင့် ဘွိုင်လာအသုံးပြုခွင့်လက်မှတ်များ ရရှိထားကြောင်း တင်ပြထားပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ရန် အတည်ပြုမိန့်ရရှိပါက သက်ဆိုင်ဌာနများ၏ လမ်းညွှန်ချက်များ၊ တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကတိဝန်ခံချက်ဖော်ပြပါရှိပါသည်။

၁၃။ လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထားပြန်ကြားထားပါသည် -

(က) **မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန** က အောက်ပါအချက် များအား လိုက်နာဆောင်ရွက်ရန် သဘောထားပြန်ကြားထားပါသည်- **(နောက်ဆက်တွဲ-က)**

(၁) ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE) အစီရင်ခံစာကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများနှင့်အညီ ရေးဆွဲတင်ပြရန်

(၂) ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှုစီမံချက် (Environmental Management Plan - EMP) ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ရန်၊

(၃) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဌာနမှ ပြဋ္ဌာန်းသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံးအကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(၄) မီးဘေးအန္တရာယ်ကာကွယ်ရန်အတွက် မီးဘေးလုံခြုံရေးစီမံချက် ရေးဆွဲရန်၊ လုပ်သားများ သက်သာချောင်ချိရေးအစီအစဉ်၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် ဆောင်ရွက်ထားရှိရမည့် အစီအစဉ်များ ဆောင်ရွက်သွားရန်၊

(၅) လုပ်ငန်းခွင်သာယာရေးနှင့် လုပ်သားများ သက်သာချောင်ချိရေး အစီအစဉ်များ၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားရှိမည့် အစီအစဉ်များ ရေးဆွဲဆောင်ရွက်ရန်၊

(၆) လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (CSR) အတွက် အသားတင်အမြတ် (၂%) အား ဒေသဖွံ့ဖြိုးရေးလုပ်ငန်းများ ဆောင်ရွက်ရန်၊

(၇) အစားထိုးရာဘာစိုက်ခင်းများ ထူထောင်သွားရန်၊

(၈) သက်ဆိုင်ရာ ဒေသခံပြည်သူများထံမှ ဆန္ဒနှင့် သဘောထားများ ရယူရန်

(ခ) မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး က အဆိုပါလုပ်ငန်းနှင့်ပတ်သက်ပြီး (၃.၁.၂၀၂၀) ရက်နေ့တွင် ကျင်းပပြုလုပ်သော မွန်ပြည်နယ်အစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ် (၁/၂၀၂၀)၊ ဆုံးဖြတ်ချက်အပိုဒ်(၅၄)အရ ဆိုင်းငံ့ထားရန် သဘောထားပြန်ကြားခဲ့ပြီး (၃.၄.၂၀၂၀)ရက်နေ့တွင်ကျင်းပပြုလုပ်သောမွန်ပြည်နယ်အစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ် (၁၄/၂၀၂၀)၊ ဆုံးဖြတ်ချက်အပိုဒ်(၄၆)အရသဘောတူကြောင်းနှင့်လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်ရန် သဘောထား ထပ်မံပြန်ကြား ထားပါသည်။

**(နောက်ဆက်တွဲ- ခ၊ ဂ)**

၁၄။ အဆိုပါလုပ်ငန်းနှင့်ပတ်သက်ပြီး အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည် -

(က) Myanmar Sein Lin Co., Ltd. ၏ ရာနှုန်းပြည့်မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသားနှင့် သစ်ပါးလွှာထုတ်လုပ်ခြင်းလုပ်ငန်း သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ တားမြစ် /ကန့်သတ် ထား သည့်လုပ်ငန်းများတွင်မပါဝင်ခြင်း၊ အစိုးရပိုင်မြေ/အဆောက်အဦအားအသုံးပြု ထားမှု မရှိခြင်း၊ သဘာဝပတ်ဝန်းကျင်နှင့် ပြည်သူလူထုအား ကြီးမားသော သက်ရောက်မှု ဖြစ်ပေါ်နိုင်သည့်လုပ်ငန်းမဟုတ်ခြင်း၊ ရင်းနှီးမြှုပ်နှံမှုပမာဏ ကျပ်သန်း ၆၀၀၀ အောက်တွင်ရှိ ခြင်းများကြောင့် မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီမှ ဆုံးဖြတ်နိုင်ပြီး အတည်ပြုမိန့် ထုတ်ပေးနိုင်သောလုပ်ငန်း ဖြစ်ပါသည်။

(ခ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၇ အရ အတည်ပြုမိန့်ရရှိရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်လွှာတင်ပြလာခြင်းဖြစ်ပါသည်။

(ဂ) အတည်ပြုမိန့်ရရှိပါက ကုမ္ပဏီအနေဖြင့် သက်ဆိုင်ဌာနများ၏ လမ်းညွှန်ချက်များ၊ တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကတိဝန်ခံမှုပြုထားပါသည်။

(ဃ) အဆိုပြုလုပ်ငန်းသည် ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြစ်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အမိန့်ကြော်ငြာစာအမှတ် ၁၃/၂၀၁၇၊ အပိုဒ်(၁)(ခ)၊ အမှတ်စဉ် (၃) (ISIC 0220) နှင့် အပိုဒ်(၁)(ဃ) အမှတ်စဉ်(၃၁) (ISIC 1621) အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင်ပါဝင်ပါသည်။ လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်မည့် မွန်ပြည်နယ်၊ ရေးမြို့နယ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အမိန့်ကြော်ငြာစာအမှတ် ၁၀/၂၀၁၇ အရ ဇုန် (၂ ) တွင် ပါဝင်ပါသည်။ သို့ဖြစ်ရာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၅ (က)(ဂ) အရ ဝင်ငွေခွန်ကင်းလွတ်ခွင့် (၅)နှစ် ခွင့်ပြုနိုင် သောလုပ်ငန်း ဖြစ်ပါသည်။

(င) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၇၇ (က) အရ လုပ်ငန်းတည်ဆောက်မှုကာလအတွင်း လုပ်ငန်းလိုအပ်ချက်အရ တင်သွင်းသော စက်ပစ္စည်းများ၊ တည်ဆောက်ရေးပစ္စည်းများနှင့်လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် အကောက်ခွန်ကင်းလွတ်ခွင့်/သက်သာခွင့်များ ရရှိခံစားနိုင်သည့်လုပ်ငန်းဖြစ်ပါသည်။

(စ) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့်ရင်းနှီးမြှုပ်နှံမှု ကဏ္ဍများတွင် ပါဝင်ပြီး ဒေသခံများအတွက် အလုပ်အကိုင်အခွင့်အလမ်းများစွာဖန်တီးပေးနိုင်ခြင်းနှင့် လုပ်ငန်းဆိုင်ရာပညာရပ်များရရှိနိုင်ခြင်း၊ ရာနှုန်းပြည့်ပြည်ပပို့ကုန်လုပ်ငန်းဖြစ်၍ နှစ်စဉ်နိုင်ငံခြားဝင်ငွေရရှိနိုင်မည့်လုပ်ငန်းဖြစ်ပါသည်။

(ဆ) နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂% ကို လူမှုရေးဆိုင်ရာတာဝန်ယူမှု (Corporate Social Responsibility-CSR)အဖြစ် သတ်မှတ်ဆောင်ရွက်မည်ဖြစ်ရာ ဒေသဖွံ့ဖြိုးတိုးတက်မှုအတွက် တစ်ဖက်တစ်လမ်းမှ ဆောင်ရွက်သွားစေနိုင်မည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ Myanmar Sein Lin Co., Ltd. မှ ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ လမိုင်းမြို့ ၊ ဒုံဖီကျေးရွာအုပ်စု၊ စံပြကျေးရွာ၊ ဦးပိုင်အမှတ် (၆၄၃)၊ ကွင်းအမှတ် (၆/O.S.S)၊ ဒုံဖီကြေးတိုင်ပြင်ကွင်း ရှိမြေ (၂.၀၁)ဧက တွင် ရာဘာသစ်ခွဲသားနှင့် သစ်ပါးလွှာထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းအား အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(လှဝင်းတင်၊ ခေတ္တအတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ (က)




ညွှန် ကြား ရေး မှူး ရုံး
ပတ် ဝန်း ကျင် ထိန်း သိမ်း ရေး ဦး စီး ဌာ န
မွန် ပြည် နယ်၊ မော် လ မြိုင် မြို့
စာအမှတ်၊ ၁၆၂ / ကကရ / ၂၀၁၉
ရက်စွဲ၊ ၂၀၁၉ခုနှစ်၊ နိုဝင်ဘာလ ၁၄ ရက်

(ဝင်စာမှတ်ပုံတင်)
အမှတ်စဉ်........၀၆၃..........
ရရှိရက်စွဲ........၂၂.၁၁.၂၀၁၉........
ရရှိအချိန်........၁၄:၀၀နာရီ........
လက်ခံသူလက်မှတ်..........

သို့

ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

မွန်ပြည်နယ်

အကြောင်းအရာ။ **ရာဘာသစ်ခွဲသားနှင့် သစ်ပါးလွှာစက်ရုံ တည်ဆောက်ထုတ်လုပ်ရန်အတွက် သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏(၂၂.၁၀.၂၀၁၉)ရက်စွဲပါစာအမှတ်၊မရက/ ၁/ နသေ/၂၀၁၉(၀၂၇)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Myanmar Sein Lin Co.,Ltd မှ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ လမိုင်းမြို့၊ စံပြကျေးရွာ၊ ဒုံဖီကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်(၆၄၃)၊ ကွင်းအမှတ်(၆/OSS)၊ ဒုံဖီကြေးတိုင်ပြင်ကွင်း၊ မြေဧရိယာ(၂.၀၁)ဧကပေါ်တွင် ရာနှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသားနှင့် သစ်ပါးလွှာစက်ရုံ တည်ဆောက်ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ လျှောက်ထားတင်ပြခြင်းအပေါ် ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီမှ အဆိုပါရာဘာသစ်ခွဲသားနှင့် သစ်ပါးလွှာစက်ရုံ တည်ဆောက် ထုတ်လုပ်ရန်အတွက် ပတ်ဝန်းကျင်ဆိုင်ရာ သဘောထားမှတ်ချက်ပေးပါရန် မွန်ပြည်နယ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ Myanmar Sein Lin Co.,Ltd မှ အဆိုပြုတင်ပြလာသော ရာဘာသစ်ခွဲသားနှင့် သစ်ပါးလွှာစက်ရုံ တည်ဆောက်ထုတ်လုပ်ခြင်းလုပ်ငန်းနှင့်ပတ်သက်၍ (၅.၁၁.၂၀၁၉) ရက်နေ့တွင် ကွင်းဆင်းစစ်ဆေးရာ အောက်ပါအတိုင်းတွေ့ရှိရပါသည်-

(က) Myanmar Sein Lin Co.,Ltd သည် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံသော လုပ်ငန်းဖြစ်ပြီး ရာဘာသစ်ခွဲသားနှင့် သစ်ပါးလွှာထုတ်လုပ်၍ ပြည်တွင်း၌ ၁၀၀% ရောင်းချမည်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအတွက် လိုအပ်သော ရေကို အဝီစိ(၁)တွင်း တူးဖော်ပြီး ရယူသုံးစွဲသွားမည်ဖြစ်ပြီး လျှပ်စစ်ဓာတ်အားအတွက် မီးစက်များဖြင့် Generator 350KVA(၁)လုံး၊ Generator 500KVA(၁)လုံး၊ Generator 625KVA(၁)လုံးနှင့်Generator 250KVA(၁)လုံး စုစုပေါင်း Generator (၄)လုံး အသုံးပြုဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဂ) ရာဘာသစ်ခွဲသားနှင့် သစ်ပါးလွှာထုတ်လုပ်မှု အဆင့်ဆင့်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(၁) ရာဘာကုန်ကြမ်းသစ်လုံးအား ခွဲစိတ်ခြင်း၊

IEE RubberMyanmar Sein Lin(19-20)

(၂) ဖိအားဖြင့် ဆေးစိမ်ခြင်း၊

(၃) အခြောက်ခံခြင်း၊

(၄) အရည်အသွေးစစ်ဆေးခြင်း၊

(၅) ထုတ်ပိုးခြင်း၊

(၆) ပြည်တွင်းဈေးကွက်တင်ပို့ခြင်း။

(ဃ) ရာဘာသစ်ခွဲသားနှင့် သစ်ပါးလွှာစက်ရုံ၏ အကျယ်တွင် ၁၀၃'×၇၂' (၁)ထပ် အဆောက်အဦ(၁)လုံး၊ ၂၄၅'×၇၂' (၁)ထပ်အဆောက်အဦ(၂)လုံး၊ စုစုပေါင်း အဆောက်အဦ(၃)လုံး ဆောက်လုပ်ထားကြောင်း တွေ့ရပြီး စက်ရုံ၏ ဘေးပတ်ဝန်းကျင်တွင် လူနေအိမ်ခြေများနှင့် နီးကပ်စွာ တည်ရှိကြောင်း၊

(င) ရာဘာသစ်လုံး(၄)ပေပိုင်းများကိုBen Saw(၂၂) လုံးဖြင့် ခွဲစိတ်၍ (၂)နာရီတစ်ခါ ပေါင်းခံစက်ဖြင့် အထူအပါးပေါ်မူတည်၍ (၆)ရက်မှ(၁၅)ရက်အထိ ပေါင်းခံပြီး ထွက်ရှိလာသော ရာဘာသစ်ခွဲသားများကို အချောကိုင်စက်(၄)လုံးဖြင့် အချောကိုင်ကြောင်း၊

(စ) ရာဘာသစ်ခွဲရာမှ ထွက်ရှိလာသော လွှစာနှင့် အမှုန်အမွှားဖမ်းစက်မှ ဖမ်းယူရရှိသော လွှစာအမှုန်များဖြင့် လောင်စာတောင့် စမ်းသပ်ထုတ်လုပ်လျက်ရှိကြောင်း၊

(ဆ) ရာဘာသစ်ခွဲသားနှင့် သစ်ပါးလွှာစက်ရုံသည် တစ်လလျှင် ရာဘာသစ်ခွဲသား (၂၄၀) ကုဗမီတာနှင့် လစဉ်အထပ်သားအဖြစ် ၁၅၀၀ ကုဗမီတာအထိ အသုံးပြုမည်ဖြစ်ကြောင်း၊

(ဇ) စက်ရုံအနေဖြင့် လျှပ်စစ်ဓာတ်အား အား မီးစက်အသုံးပြုမည်ဖြစ်ပြီး Generator 350 KVA(၁)လုံး၊ Generator 500KVA(၁)လုံး၊ Generator 625KVA(၁)လုံးနှင့် Generator 250KVA(၁)လုံး စုစုပေါင်း Generator (၄)လုံး အသုံးပြုမည်ဖြစ်ကြောင်း၊

(ဈ) အဆိုပြုလုပ်ငန်းမှ လုပ်ဆောင်၍ ရရှိလာသည့် နှစ်စဉ်အမြတ်ငွေမှ (၂%)အား CSR ရန်ပုံငွေအဖြစ် သုံးစွဲသွားမည်ဖြစ်ကြောင်း တင်ပြချက်အရ သိရှိရပါသည်။

၃။ ရာဘာသစ်ခွဲသားနှင့်သစ်ပါးလွှာစက်ရုံလုပ်ငန်းများ လုပ်ဆောင်ရာတွင် အောက်ပါအချက်များကို ထည့်သွင်း ဆောင်ရွက်သွားရန် လိုအပ်ပါသည်-

(က) သစ်ခွဲသားနှင့် သစ်ပါးလွှာစက်ရုံလည်ပတ်စဉ်တွင် ထွက်ရှိလာသော အမှုန်အမွှား၊ စွန့်ပစ်ရေ၊ ဘေးထွက်ရာဘာသစ်တိုအပိုင်းအစများ၊လွှစာမှုန့်များကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် စက်ရုံလုပ်သားများ၏ ကျန်းမာရေး မထိခိုက်စေရန်အတွက် စနစ်တကျ စွန့်ပစ်ခြင်း၊ ထိန်းချုပ်ခြင်းများ ဆောင်ရွက်သွားရန်၊

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် စက်ယန္တရားကြီးများ အသုံးပြု၍ သစ်လုံးသယ်ယူခြင်း၊ ခွဲစိတ်ခြင်းလုပ်ငန်းများတွင် ထွက်ရှိလာမည့် အခိုးအငွေ့များ၊ ဖုန်မှုန့်များနှင့် ဆူညံသံများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းလည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့၏ စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် သစ်အပိုင်းအစနှင့် ဓာတုစွန့်ပစ် ပစ္စည်းများကြောင့်လည်းကောင်း၊ သစ်အမှုန်အမွှားပျံ့လွင့်မှုကြောင့်လည်းကောင်း၊ ပတ်ဝန်းကျင်လေထု၊ မြေထုကို ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် (Mitigation Processess) လျှော့နည်း

သက်သာစေရေးအစီအစဉ်အနေဖြင့် ဆောင်ရွက်နိုင်ရေး စက်ကိရိယာများနှင့်ကုန်ထုတ်လုပ်မှုနည်းပညာများ အသုံးပြုဆောင်ရွက်ရန်၊

(ဂ) ဆေးရည်စိမ်ရာတွင် အသုံးပြုသော Boraxic Acid နှင့် Borax သည် လူကိုအန္တရာယ်မရှိသော်လည်း အဆိုပါ Chemical များအား စနစ်တကျ ကိုင်တွယ် အသုံးပြုခြင်းမရှိပါကကိုင်တွယ်အသုံးပြုသူ၏ မျက်စိထဲသို့ Chemical အမှုန်များ ဝင်ရောက်၍ ထိခိုက်မှုရှိနိုင်သဖြင့် အကာအကွယ်များဖြင့် ဆောင်ရွက်သွားရန်၊

(ဃ) မီးဘေး ကြိုတင်ကာကွယ်ရေးစီမံချက်များ ရေးဆွဲဆောင်ရွက်သွားရန်နှင့် အဆိုပါ အစီအမံအတိုင်းဇာတ်တိုက်လေ့ကျင့်သွားရန် လိုအပ်ပြီး မီးဘေးကာကွယ်ရေးပစ္စည်း ကိရိယာများ၊ မီးသတ်ဆေးဗူး၊ မီးသတ်ရေကန်များ စနစ်တကျထားရှိ ဆောင်ရွက်သွားရန်၊

(င) စက်ရုံအတွင်း လေဝင် လေထွက်ကောင်းရန်နှင့် စက်ရုံ၏အမိုးများတွင် အမှုန်စုပ်ပန်ကာများ လုံလုံလောက်လောက် တပ်ဆင်ဆောင်ရွက်သွားရန်၊

(စ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း နောက်ဆက်တွဲ(က)၊ အမှတ်စဉ်(၆၂)အရ သစ်စက်နှင့် သစ်အချောထည် ပစ္စည်းထုတ်လုပ်ခြင်းလုပ်ငန်းအတွက် တစ်နှစ်လျှင် ကုန်ကြမ်းသစ် ကုဗမီတာ ၃,၀၀၀နှင့်အထက်၊ ကုဗမီတာ ၅၀,၀၀၀ အောက် ၊ သစ်အချောထည်ပစ္စည်းထုတ်လုပ်ခြင်း တစ်နှစ်လျှင် ကုဗမီတာ ၁,၀၀၀နှင့်အထက်၊ ကုဗမီတာ ၁၅,၀၀၀အောက် လုပ်မည်ဆိုပါက ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်းပြုလုပ်ရန် ဟုပြဌာန်းထားရှိပြီး စက်ရုံအနေဖြင့် တစ်နှစ်လျှင် ၁၈၀၀၀ ကုဗမီတာထုတ်လုပ်သဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE) ပြုလုပ်သွားရန် လိုအပ်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar Sein Lin Co.,Ltd မှ ရာဘာသစ်ခွဲသားနှင့် သစ်ပါးလွှာစက်ရုံတည်ဆောက် ထုတ်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်သွားရန် လိုအပ်ပါကြောင်း သဘောထားပြန်ကြားပါသည်-

(က) ရာဘာသစ်ခွဲသားနှင့်သစ်ပါးလွှာစက်ရုံလုပ်ငန်းအတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း(IEE) အစီရင်ခံစာကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းနှင့်အညီ အောက်ပါအချက်များအတိုင်း(၂၉.၅.၂၀၂၀)ရက်နေ့ နောက်ဆုံး ရေးဆွဲတင်ပြသွားရန်-

(កက) ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE) အစီရင်ခံစာကို ဆောင်ရွက် မည့်အဖွဲ့အစည်း (သို့မဟုတ်) တတိယပုဂ္ဂိုလ်အား ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၃၃)နှင့်အညီ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြ၍ အတည်ပြုချက်ရယူရန်၊

(ခခ) ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE)အစီရင်ခံစာတွင် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၃၄)နှင့်အညီ

အများပြည်သူနှင့် တိုင်ပင် ဆွေးနွေးခြင်းဆိုင်ရာ လုပ်ငန်းစဉ်များအား ဆောင်ရွက်ရန်၊

(ဂဂ) ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE) အစီရင်ခံစာအား တင်ပြရာ တွင် တင်ပြမည့် အစီအစဉ်အလိုက် လိုအပ်သည့် ပုံစံများ ဖြည့်စွက်၍ ပူးတွဲ တင်ပြရန်၊ အစိုးရအဖွဲ့၏ ကြီးကြပ် ကွက်ကဲမှုဖြင့် စီမံကိန်းလုပ်ငန်း ဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများအား အလေးထားဆောင်ရွက်ရန်၊

(ခ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်အတွက် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ် ပစ္စည်း စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုစီမံချက် (Environ - mental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင် အထည်ဖော် ဆောင်ရွက်ရန်၊

(ဂ) ပြဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ဃ) မီးဘေးလုံခြုံရေးစီမံချက်၊ လုပ်ငန်းခွင့်သာယာရေးနှင့်လုပ်သားများ သက်သာချောင်ချိ ရေးအစီအစဉ်များ၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် ဆောင်ရွက်ထားရှိမည့် အစီ အစဉ်များအား ဆောင်ရွက်သွားရန်၊

(င) လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR)အတွက် အသားတင်အမြတ်ငွေ၏ (၂%)အား ထည့်ဝင်မှုအပါအဝင်ကတိကဝတ် များထားရှိပြီး ဒေသဖွံ့ဖြိုးရေးလုပ်ငန်းများ ဆောင်ရွက်သွားရန်၊

(စ) တစ်နှစ်လျှင် ပျမ်းမျှအားဖြင့် ရာဘာသစ်ကုန်ချော ကုဗမီတာ ၁၈၀၀၀ ခန့် အနည်းဆုံး ထုတ်လုပ်မည်ဖြစ်၍ အစားထိုးရာဘာစိုက်ခင်းများ ထူထောင်သွားရန်၊

(ဆ) စီမံကိန်းအဆိုပြုသူသည် သက်ဆိုင်ရာ ဒေသခံပြည်သူများထံမှ ဆန္ဒနှင့်သဘောထား များ ရယူဆောင်ရွက်သွားရန်။

၃၁/၁၁/၁၈

(အောင်မြအောင်လေး)

ညွှန်ကြားရေးမှူး

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

နေပြည်တော်

မိတ္တူကို

ဝန်ကြီး၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ မွန်ပြည်နယ်

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ နေပြည်တော်

ညွှန်ကြားရေးမှူး(ပတ်ဝန်းကျင်ညစ်ညမ်းမှုထိန်းချုပ်ရေးဌာန)၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန၊ နေပြည်တော်

ရုံးလက်ခံ

မျှောစာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
မွန်ပြည်နယ်



စာအမှတ်၊ ၂၀၀/ ၄ - ၃/ အဖရ(မွန်)( ၀လ၅ )
ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ်၊ ဇန်နဝါရီလ ၁၅ ရက်

သို့

√ အတွင်းရေးမှူး
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏(၂၇-၁၂-၂၀၁၉)ရက်စွဲပါစာအမှတ်၊ မရက/ ၁/နသေ/၂၀၁၉(၀၄၁)

ရေးမြို့နယ်၊ လမိုင်းမြို့၊ ဒုံဖီကျေးရွာအုပ်စု၊ စံပြကျေးရွာ၊ ဦးပိုင်အမှတ်(၆၄၃)၊ ကွင်းအမှတ် (၆/OSS)၊ ဒုံဖီကြေးတိုင်ပြင်ကွင်း၊ မြေဧရိယာ(၂.၀၁)ကေတွင် ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီး မြှုပ်နှံမှုဖြင့် ရော်ဘာသစ်ခွဲသားနှင့် သစ်ပါးလွှာစက်ရုံ တည်ဆောက်ပြီး လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် Myanmar Sein Lin Co., Ltd မှ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြလာခြင်းအပေါ် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီမှ ရည်ညွှန်းပါစာဖြင့် တင်ပြလာခြင်းနှင့်ပတ်သက်၍ (၃-၁-၂၀၂၀) ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မွန်ပြည်နယ်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၁/၂၀၂၀)၊ ဆုံးဖြတ်ချက် အပိုဒ်(၅၄)အရ ဆိုင်းငံ့ထားရန် အကြောင်းကြားပါသည်။

ဝန်ကြီးချုပ် ( ကိုယ်စား )
(မြင့်သန်းဝင်း၊ ညွှန်ကြားရေးမှူး)

မိတ္တူကို
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး
လှည့်လည်စာတွဲ
ရုံးလက်ခံ

နောက်ဆက်တွဲ (ဂ)





**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**ပြည်နယ်အစိုးရအဖွဲ့**
**မွန်ပြည်နယ်**

စာအမှတ်၊ ၂၀၀/ ၄ - ၁၆/ အဖရ(မွန်)(လ၁၅)
ရက်စွဲ၊ ၂၀၂၀ ခုနှစ်၊ ဧပြီလ ၂ ရက်

သို့

✓အတွင်းရေးမှူး
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
(ပြည်နယ်ဦးစီးမှူး၊ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန)

အကြောင်းအရာ။ **မြန်မာစိန်လင်းကုမ္ပဏီ၏ MIC လျှောက်ထားခြင်းကိစ္စ**

ရေးမြို့နယ်၊ လမိုင်းမြို့၊ ဒုံဖီကျေးရွာအုပ်စု၊ စံပြကျေးရွာ၊ ဦးပိုင်အမှတ် (၆၄၃)၊ ကွင်းအမှတ် (၆/OSS)၊ ဒုံဖီကြေးတိုင်ပြင်ကွင်း၊ မြေဧရိယာ(၂.၀၁)ဧကတွင် ရာနှုန်းပြည့်မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ရော်ဘာသစ်ခွဲသားနှင့် သစ်ပါးလွှာစက်ရုံတည်ဆောက်ပြီး လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် Myanmar Sein Lin Co.,Ltd မှ တင်ပြလာခြင်းအပေါ် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီမှ တင်ပြလာခြင်းနှင့်ပတ်သတ်၍ မွန်ပြည်နယ်အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်(၁/၂၀၂၀)၊ ဆုံးဖြတ်ချက်အပိုဒ် (၅၄)အရ ဆိုင်းငံ့ထားရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ (၁၅-၁-၂၀၂၀)ရက်စွဲပါစာဖြင့် အကြောင်းကြားခဲ့ရာ ယခုအခါ မြန်မာစိန်လင်းကုမ္ပဏီမှ MIC လျှောက်ထားမှုအပေါ် ပြန်လည်စဉ်းစား ဆုံးဖြတ်ပေးပါရန် (၂၆-၂-၂၀၂၀)ရက်စွဲပါစာဖြင့် ပြန်လည်တင်ပြလာခြင်းနှင့်ပတ်သက်၍ (၃-၄-၂၀၂၀) ရက်နေ့တွင် ကျင်းပပြုလုပ်သော **မွန်ပြည်နယ်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၄/၂၀၂၀)၊ ဆုံးဖြတ်ချက်အပိုဒ်(၄၆)အရ** သဘောတူကြောင်းနှင့်လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်သွားရန် အကြောင်းကြားပါသည်။

ပူးတွဲ - တင်ပြစာမိတ္တူ(၁)စုံ

ဝန်ကြီးချုပ် ( ကိုယ်စား )
(မြင့်သန်းဝင်း၊ ညွှန်ကြားရေးမှူး)

မိတ္တူကို
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး၊ မွန်ပြည်နယ်အစိုးရအဖွဲ့
မြန်မာစိန်လင်းကုမ္ပဏီလီမိတက်
လှည့်လည်စာတွဲ/ရုံးလက်ခံ

2 2020 April9

anmar Sein Lin Co.,Ltd.

သို့

ဝန်ကြီးချုပ်
မွန်ပြည်နယ်၊ အစိုးရအဖွဲ့
မော်လမြိုင်မြို့

၄၃၃၁
၂၈-၂-၂၀
၁၄:၃၀

ရက်စွဲ - 26.2.2020

အကြောင်းအရာ။ ။မြန်မာစိန်လင်းကုမ္ပဏီ၏ MIC လျှောက်ထားခြင်းကိစ္စ။

အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ ကျွန်တော်၏ ကုမ္ပဏီသည် ရေးမြို့နယ်၊ စံပြကျေးရွာ (မော်လမြိုင်-ထားဝယ်) ကားလမ်းမကြီးဘေးတွင် တည်ရှိပါသည်။

MIC လျှောက်ထားမှုအား ဝန်ကြီးချုပ်ထံ လေးစားစွာ တင်ပြပြီး ဖြစ်ပါသည်။ အခြားခွင့်ပြုချက်များ ရရှိမှုအပေါ်လည်း သိသာရန် ထပ်မံတင်ပြအပ်ပါသည်။

သို့ပါ၍ ပူးတွဲပါ မိမိကုမ္ပဏီ၏ ဖွဲ့စည်းပုံ၊ လုပ်ငန်းလုပ်ဆောင်ချက်၊ အခွန်၊ ရရှိပြီးသော ခွင့်ပြုမိန့်မိတ္တူ၊ ကုမ္ပဏီမှတ်ပုံတင်တို့အား သိသာရန် ထပ်မံတင်ပြပြီး လူကြီးမင်းမှ MIC လျှောက်ထားမှုအပေါ် ပြန်လည်စဉ်းစား ဆုံးဖြတ်ပေးပါရန် တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးလှိုင်မြင့်အောင်
အထွေထွေမန်နေဂျာ
မြန်မာစိန်လင်းကုမ္ပဏီလီမိတက်



ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်
ရင်းနှီးမြှုပ်နှံမှုနှင့်နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

## ငွေလက်ခံရန်အကြောင်းကြားစာ

အမှတ်စဉ်

ရက်စွဲ၊ ၂၀၂၀ ခုနှစ်၊ မေ လ ၂၅ ရက်

အောက်ဖော်ပြပါ လျှောက်ထားသူထံမှ သက်ဆိုင်ရာလျှောက်ထားလွှာအတွက် ဖော်ပြပါ ဝန်ဆောင်ခအား လက်ခံပါရန်နှင့် ငွေရပြေစာမိတ္တူတစ်စောင်ကို ဌာနခွဲသို့ ပေးပို့ပေးပါရန် အကြောင်း ကြားအပ်ပါသည်-

၁။ လျှောက်ထားသူ၏ -

(က) အမည် ဦးသိန်းဝင်း

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ၁၃/လရန(နိုင်)၀၃၆၉၀၅

(ဂ) နေရပ်လိပ်စာ/ တယ်လီဖုန်း အမှတ် (၂၈၈/၂၉၀)၊ အခန်း (၉၀၅) MWEA (တာဝါ)၊ ရွှေဘုံသာလမ်း၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ 09500030063

၂။ ရင်းနှီးမြှုပ်နှံသူ၏ -

(က) အမည် ဦးသိန်းဝင်း

(ခ) ကုမ္ပဏီအမည် Myanmar Sein Lin Co.,Ltd.

(ဂ) လုပ်ငန်းအမျိုးအစား ရာဘာသစ်ခွဲသား နှင့် ရာဘာသစ် အခြေခံ သစ်ပါးလွှာ ထုတ်လုပ်ခြင်းလုပ်ငန်း

၃။ ပေးသွင်းမည့်ဝန်ဆောင်ခနှင့်စပ်လျဉ်း၍-

(က) လျှောက်ထားလွှာ ပုံစံအမှတ် ၄ (ခ)

(ခ) ဝန်ဆောင်ခနှုန်းထား(ဂဏန်းဖြင့်) ကျပ် ၂၅၀၀၀/-

(စာဖြင့်) ကျပ် နှစ်သောင်း ငါးထောင် တိတိ

(ဂ) ငွေအမျိုးအစား

တစ်သောင်း (၂) ရွက်

ငါးထောင် (၁) ရွက်

(ရင်းနှီးမြှုပ်နှံမှုဌာနစု)

၂၅၀၀၀/- ကျပ် (နှစ်သောင်း ငါးထောင်) ကျပ် တိတိ)ကို လက်ခံရရှိပါသည်။

ငွေစာရင်းဌာနစု

(မင်းသိန်းဦး)
လက်ထောက်ညွှန်ကြားရေးမှူး
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ပြည်နယ်ဦးစီးမှူးရုံး၊ မွန်ပြည်နယ်

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်
ရင်းနှီးမြှုပ်နှံမှုနှင့်နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

**ငွေလက်ခံရန်အကြောင်းကြားစာ**

အမှတ်စဉ် ရက်စွဲ၊ ၂၀၂၀ ခုနှစ်၊ မေ လ ၂၅ ရက်

အောက်ဖော်ပြပါ လျှောက်ထားသူထံမှ သက်ဆိုင်ရာလျှောက်ထားလွှာအတွက် ဖော်ပြပါ ဝန်ဆောင်ခအား လက်ခံပါရန်နှင့် ငွေရပြေစာမိတ္တူတစ်စောင်ကို ဌာနခွဲသို့ ပေးပို့ပေးပါရန် အကြောင်း ကြားအပ်ပါသည်-

၁။ လျှောက်ထားသူ၏ -

(က) အမည် ...ဦးသိန်းဝင်း...

(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ...၁၃/လရန(နိုင်)၀၁၃၉၇၅...

(ဂ) နေရပ်လိပ်စာ/ တယ်လီဖုန်း ...အမှတ်(၂၈၈/၂၉၀)၊ အခန်း(၉၀၅)၊ MWEA (တာဝါ)၊ ရွှေဘုံသာလမ်း၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ ၀၉၅၀၀၃၀၆၃

၂။ ရင်းနှီးမြှုပ်နှံသူ၏ -

(က) အမည် ...ဦးသိန်းဝင်း...

(ခ) ကုမ္ပဏီအမည် ...Myanmar Sein Lin Co.,Ltd...

(ဂ) လုပ်ငန်းအမျိုးအစား ...ကျွန်းသစ်ခွဲသား နှင့် ကျွန်းသစ် အခြောက်ခံ သစ်ပါးလွှာ ထုတ်လုပ်ခြင်းလုပ်ငန်း...

၃။ ပေးသွင်းမည့်ဝန်ဆောင်ခနှင့်စပ်လျဉ်း၍-

(က) လျှောက်ထားလွှာ ပုံစံအမှတ် ...၄ (ခ)...

(ခ) ဝန်ဆောင်ခနှုန်းထား(ဂဏန်းဖြင့်) ကျပ် ...၂၅၀၀၀/-...

(စာဖြင့်) ကျပ် ...နှစ်သောင်း ငါးထောင် တိတိ...

(ဂ) ငွေအမျိုးအစား

...တစ်သောင်း... ...(၂) ရွက်...

...ငါးထောင်... ...(၁) ရွက်...

(ရင်းနှီးမြှုပ်နှံမှုဌာနစု)

...၂၅၀၀၀/-... ကျပ် (...နှစ်သောင်း ငါးထောင်... ကျပ် တိတိ)ကို လက်ခံရရှိပါသည်။

ငွေစာရင်းဌာနစု

(မင်းသိန်းဦး)
လက်ထောက်ညွှန်ကြားရေးမှူး
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ပြည်နယ်ဦးစီးမှူးရုံး၊ မွန်ပြည်နယ်

အကြောင်းအရာ။ Myanmar Sein Lin Co.,Ltd. မှ ရာနှုန်းပြည့် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသားထုတ်လုပ်ခြင်းလုပ်ငန်း

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Myanmar Sein Lin Co.,Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | ဦးသိန်းဝင်း၊ မန်နေဂျင်းဒါရိုက်တာ |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - ရာဘာသစ်ခွဲသားနှင့် သစ်ပါးလွှာထုတ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မွန်ပြည်နယ်၊ ရေးမြို့နယ်၊ လမိုင်းမြို့၊ဒုံဖီကျေးရွာအုပ်စု၊ စံပြကျေးရွာ၊ ဦးပိုင်အမှတ် (၆၄၃)၊ ကွင်းအမှတ် ( ၆/ O.S.S)၊ ဒုံဖီကြေးတိုင်ပြင်ကွင်း |
| ၃။ | မြေပိုင်ရှင် | - ဦးသိန်းဝင်း ၊ မန်နေဂျင်းဒါရိုက်တာ |
| | မြေအကျယ်အဝန်း | - ၂.၀၁ ဧက |
| | အဆောက်အဦ အရေအတွက် | 303' x 72' ( ၁ ထပ်) ၁ လုံး<br>245' x 72' ( ၁ ထပ်) ၂ လုံး<br>**စုစုပေါင်း** ၃ လုံး |
| | နှစ်စဉ်မြေငှားရမ်းခ | ကုမ္ပဏီပိုင်မြေတွင် ဆောင်ရွက်သည်။ |
| | မြေ/ အဆောက်အဦ ငှားရမ်း / အသုံးပြုခွင့်သက်တမ်း | |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ၃၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ | - ၆ လ |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - ကျပ် ၂၅၀၀.၀၀၀ သန်း |
| | **ထည့်ဝင်သည့်အမျိုးအစား** | |
| | (က) ငွေသား | - ကျပ်သန်း ၇၂၄.၄၅၀ |
| | (ခ) အဆောက်အဦ တန်ဖိုး ကုန်ကျစရိတ် | - ကျပ်သန်း ၄၀၀.၀၀၀ |
| | (ဂ) ရုံးသုံးပစ္စည်းများ | - ကျပ်သန်း ၂၄.၉၇၀ |
| | (ဃ) စက်ပစ္စည်းကိရိယာ | - ကျပ်သန်း ၁၃၅၀.၅၈၀ |
| | စုစုပေါင်း | - ကျပ်သန်း ၂၅၀၀.၀၀၀ |

| | | |
|---|---|---|
| ၇။ | ရောင်းချမှုနည်းစနစ် | ပြည်တွင်း ( 100%) |
| ၈။ | ရောင်းချမှုနှင့် ဈေးနှုန်း | **တစ်နှစ်ထုတ်လုပ်မှုအရေအတွက် (CBM)** **ဈေးနှုန်း ( US$/ CBM )** |
| | ရာဘာသစ်ခွဲသား | - ၁၄၄၀၀ - |
| | ရာဘာသစ်ပါးလွှာ | - ၁၈၀၀၀ |
| ၉။ | ဝန်ထမ်းခန့်ထားမှု | ပြည်တွင်း ပြည်ပ<br>- ဦးရေ ၄၀ ဦး ၃ ဦး<br>- အမြင့်ဆုံးလစာ ကျပ် ၅၀၀၀၀၀ ကျပ် ၂၀၀၀၀၀၀<br>- အနိမ့်ဆုံးလစာ ကျပ် ၁၅၀၀၀၀ ကျပ် ၁၀၀၀၀၀၀ |
| ၁၀။ | အခြားတင်ပြချက် | - Myanmar Sein Lin Co.,Ltd.သည် ကုမ္ပဏီမှတ်ပုံတင် အမှတ်-102654374 ဖြင့် ၁၉.၅.၂၀၀၃ရက်နေ့တွင် မှတ်ပုံတင်ထားပြီး ဒါရိုက်တာအစုရှင်(၂)ဦးဖြင့်ဖွဲ့စည်းမှတ်ပုံတင်ထားသော ကုမ္ပဏီဖြစ်ပါသည်။<br>- ငွေကြေးပိုင်ဆိုင်မှု အထောက်အထားအဖြစ် (၃၀.၉.၂၀၁၉) ရက်နေ့ထိကျပ် ၁၈၀.၀၁၀သန်း ရှိကြောင်း Yoma Bank Limited မန္တလေးမြို့ ( Saingtan Branch) ၏ Bank Statement ဖော်ပြထားပါသည်။<br>- မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ လမိုင်းမြို့၊ စံပြကျေးရွာ၊ ဒုံဖီကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်(၆၄၃)၊ ကွင်းအမှတ်( ၆/ OSS)၊ ဒုံဖီကြေးတိုင်ပြင်ကွင်း၊ မြေ (၂.၀၁) ဧကသည် မူလပိုင်ရှင် ဦးအောင်ရှိန်ထံမှ Myanmar Sein Lin Co.,Ltd. ၏ဒါရိုက်တာ ဦးသိန်းဝင်း ဝယ်ယူထားကြောင်း မြေ အရောင်းအဝယ်စာချုပ် တင်ပြထားပါသည်။ မြေ အမျိုးအစားမှာ ရော်ဘာခြံမြေ အမျိုးအစားဖြစ်ပြီး မြေ(၅.၃၇)ဧက အနက်မှ မြေ (၂.၀၁)ဧကမှာ လယ်ယာမြေ အခြားနည်းအသုံးပြုခွင့် ရရှိထားကြောင်းတွေ့ရှိရပါသည်။ |

| | | |
|---|---|---|
| ၁၁။ | စိစစ်တင်ပြချက် | - စက်ပစ္စည်းတန်ဘိုး ကျပ်သန်း၁၃၅၀.၃၈၀ အား ဝယ်ယူ တပ်ဆင်ပြီးကြောင်း Sale Invoice များတင်ပြထားပါသည်။ သစ်တောဦးစီးဌာန၏ သစ်စက် (Saw Mill) လိုင်စင်၊ စက်မှု ကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန၏ ပုဂ္ဂလိကစက်မှု လုပ်ငန်းမှတ်ပုံတင်၊ လျှပ်စစ်အန္တရယ်ကင်းရှင်းကြောင်း လက်မှတ်နှင့် ဘွိုင်လာအသုံးပြုခွင့် လက်မှတ်များရရှိထား ကြောင်း တင်ပြထားပါသည်။<br>- မီးဘေးကာကွယ်မှုအစီအမံများ၊လုပ်ငန်းခွင်သာယာရေး ဝန်ထမ်းသက်သာချောင်ချိရေးအတွက်ဆောင်ရွက်ထား ရှိမည့်အစီအစဉ်များအား တင်ပြထားပါသည်။<br>- အတည်ပြုမိန့်ရရှိပါက ကုမ္ပဏီအနေဖြင့်သက်ဆိုင်ရာဌာန များ၏လမ်းညွှန်ချက်များ၊တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်း များနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းကတိ ဝန်ခံမှုပြုထားပါသည်။<br>- ပြည်တွင်းဝန်ထမ်းများ အတွက် အနိမ့်ဆုံးလုပ်ခလစာဥပဒေ သတ်မှတ်ချက်နှင့်အညီ သတ်မှတ်ကျခံပေးမည် ဖြစ်ကြောင်း ကတိဝန်ခံချက် ဖော်ပြပါရှိပါသည်။<br>- လုပ်ငန်းအမျိုးအစားသည် ISIC 0220 နှင့် ISIC 1621 ဖြစ်ပြီး MIC အမိန့်ကြော်ငြာစာအမှတ်၊၁၃/၂၀၁၇ အပိုဒ်(၁) (ခ) အမှတ်စဉ် (၃) နှင့် အပိုဒ်(၁) (ဃ) အမှတ်စဉ် (၃၁) အရ ဦးစားပေးမြှင့်တင်မည့်ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင်ပါဝင်ပါသည်။<br>- လုပ်ငန်းတည်နေရာဖြစ်သော မွန်ပြည်နယ်၊ ရေးမြို့နယ်သည် MICအမိန့်ကြော်ငြာစာအမှတ်၊ ၁၀/၂၀၁၇အရ ဇုန်(၂) တွင် ပါဝင်သည့်အတွက် ဥပဒေပုဒ်မ ၇၅(က)(၈)အရ ဝင်ငွေခွန် ကင်းလွတ်သက်သာခွင့် (၅)နှစ် ခွင့်ပြုနိုင်သောလုပ်ငန်းဖြစ် ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

| | | |
|---|---|---|
| | | - အဆိုပါလုပ်ငန်းနှင့် ပတ်သက်၍ (၃-၁-၂၀၂၀) ရက်နေ့တွင် ကျင်းပပြုလုပ်သောမွန်ပြည်နယ်အစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ် (၁/၂၀၂၀)၊ ဆုံးဖြတ်ချက်အပိုဒ်(၅၄) အရ ဆိုင်းငံ့ထားရန်သဘောထားပြန်ကြားခဲ့ပြီး (၃-၄-၂၀၂၀) ရက်နေ့တွင် ကျင်းပပြုလုပ်သောမွန်ပြည်နယ်အစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ် (၁၄/၂၀၂၀)၊ ဆုံးဖြတ်ချက်အပိုဒ်(၄၆)အရ သဘောတူကြောင်းနှင့် လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်ရန် သဘောထားထပ်မံပြန်ကြားခဲ့သောလုပ်ငန်းဖြစ်ပါသည်။ |



ပုံစံ (၄ - ၁)

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီရုံး
(ဝင်စာမှတ်ပုံတင်)
အမှတ်စဉ် ...... ၀၅၆ ......
ရရှိရက်စွဲ ...... ၂၉.၆.၂၀၁၉ ......
ရရှိအချိန် ...... 10:00 နာရီ ......
လက်ခံသူလက်မှတ် ...... [signature] ......

# အတည်ပြုလျှောက်ထားလွှာ

သို့
ဥက္ကဋ္ဌ
.................... တိုင်းဒေသကြီး / ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ် ၊

ရက်စွဲ ၂၀ ခုနှစ်၊ လ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၇ နှင့်အညီ အောက်ဖော်ပြပါ အချက်များအား ဖြည့်စွက်၍ အတည်ပြုလျှောက်ထားလွှာကို တင်ပြလျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏

(က) အမည် ....................

(ခ) ကုမ္ပဏီမှတ်ပုံတင်အမှတ် သို့မဟုတ် ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံသားစိစစ်ရေးကဒ် အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ....................

(ဂ) နိုင်ငံသား ....................

(ဃ) နေရပ်လိပ်စာ/ မှတ်ပုံတင်ထားသည့်ကုမ္ပဏီလိပ်စာ ....................

....................

(င) တယ်လီဖုန်း /ဖက်စ် / အီးမေးလ်လိပ်စာ ....................

(စ) လုပ်ငန်းအမျိုးအစား ....................

(ဆ) အတည်ပြုလုပ်ငန်း၏ ထုတ်လုပ်မှုကွင်းဆက်နှင့် အခြားဆက်စပ်လုပ်ငန်းများအပေါ် အကျိုးပြုမှု ....................

မှတ်ချက်။ အောက်ပါအချက်များကို ပူးတွဲတင်ပြရန်-

(၁) ကုမ္ပဏီမှတ်ပုံတင် အထောက်အထားမိတ္တူ

(၂) နိုင်ငံသားစိစစ်ရေးကတ်မိတ္တူနှင့်နိုင်ငံကူးလက်မှတ်မိတ္တူ

၂။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင်လျှောက်ထားခြင်းမဟုတ်ပါ က လျှောက်ထားသူ၏-

(က) အမည် ....................

(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် ....................
(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/ နိုင်ငံကူးလက်မှတ်အမှတ် ....................

(ဃ) နိုင်ငံသား ....................

၃

ပုံစံ (၄-ခ)

# အတည်ပြုလျှောက်လွှာ

သို့

ဥက္ကဋ္ဌ

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ်၊

ရက် စွဲ ၊ ၂၀၂၄ ခုနှစ်၊ ဇန်နဝါရီလ ၂၈ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၇ နှင့်အညီ အောက်ဖော်ပြပါ အချက်များအားဖြည့်စွက်၍ အတည်ပြုလျှောက်ထားလွှာကို တင်ပြလျှောက်ထားအပ်ပါသည် -

၁။ ရင်းနှီးမြှုပ်နှံသူ၏

(က) အမည် - ဦးသိန်းဝင်း

(ခ) ကုမ္ပဏီမှတ်ပုံတင်အမှတ် သို့မဟုတ် -
ရင်းနှီးမြှုပ်နှံသူ၏နိုင်ငံသားစိစစ်ရေးကဒ် - ၁၃/လရန (နိုင်) ၀၃၆၇၀၅

(ဂ) နိုင်ငံသား - မြန်မာနိုင်ငံသား

(ဃ) နေရပ်လိပ်စာ/မှတ်ပုံတင်ထားသည့်ကုမ္ပဏီလိပ်စာ- အမှတ် (၂၈၈/၂၉၀)၊ အခန်း (၉၀၅)၊ MWEA (တာ၀ါ)၊ ရွှေတိဂုံဘုရားလမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ။

(င) တယ်လီဖုန်း/ဖက်စ်/အီးမေးလ်လိပ်စာ - 09 5003063

(စ) လုပ်ငန်းအမျိုးအစား - ရာဘာသစ်ခွဲသားနှင့် ရာဘာသစ်အခြေခံသစ်ပါးလွှာ ထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) အတည်ပြုလုပ်ငန်း၏ ထုတ်လုပ်မှုကွင်းဆက်နှင့် အခြားဆက်စပ်လုပ်ငန်းများအပေါ် အကျိုးပြုမှု

မှတ်ချက် ။ အောက်ပါအချက်များကို ပူးတွဲတင်ပြရန် -

(၁) ကုမ္ပဏီမှတ်ပုံတင် အထောက်အထားမိတ္တူ

(၂) နိုင်ငံသားစိစစ်ရေးကတ်မိတ္တူနှင့်နိုင်ငံကူးလက်မှတ်မိတ္တူ

၂။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင်လျှောက်ထားခြင်းမဟုတ်ပါက လျှောက်ထားသူ၏ -

(က) အမည် ..........

(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် ..........
(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ..........

(ဃ) နိုင်ငံသား ..........................................................................

(င) မြန်မာနိုင်ငံတွင် နေထိုင်သည့် နေရပ်လိပ်စာ ..................................................

(စ) တယ်လီဖုန်း/ဖက်စ် ..................................................................

(ဆ) အီးမေးလ်လိပ်စာ ..................................................................

မှတ်ချက် ။ တရားဝင်ကိုယ်စားလှယ်လွှဲစာ ပူးတွဲတင်ပြရန် ။

၃။ ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်

☑ ရာခိုင်နှုန်းပြည့် ☐ ဖက်စပ်ပြုလုပ်ခြင်း (ဖက်စပ်စာချုပ်မူကြမ်းတင်ပြရန်)

☐ အခြားသဘောတူညီချက်ပုံစံတစ်မျိုးမျိုးဖြင့်ဆောင်ရွက်ခြင်း (စာချုပ်မူကြမ်းတင်ပြရန်)

မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံသူ၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး 100 %

အစိုးရဌာန ၊ အစိုးရအဖွဲ့အစည်း၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး ...................... %

နိုင်ငံခြားသားရင်းနှီးမြှုပ်နှံသူ၏အစုရှယ်ယာပိုင်ဆိုင်မှုအချိုး ...................... %

၄။ အစုရှယ်ယာ ၁၀% နှုန်းနှင့်အထက်ပိုင်ဆိုင်သော အစုရှယ်ယာရှင်များစာရင်း

| စဉ် | အစုရှယ်ယာရှင်အမည် | နိုင်ငံသား | အစုရှယ်ယာပိုင်ဆိုင်မှု% |
|---|---|---|---|
| ၁ | ဒေါ်ခင်သန္တာဝင်း | မြန်မာ | 98 % |
| ၂ | ဦးသိန်းဝင်း | မြန်မာ | 2 % |
| | | | |
| | | | |

၅။ ကုမ္ပဏီဖွဲ့စည်းခြင်းနှင့် သက်ဆိုင်သောအချက်အလက်များ

(က) ကုမ္ပဏီအမျိုးအစား - အလတ်စား

(ခ) အစုရှယ်ယာအမျိုးအစား - သာမန်

(ဂ) အစုရှယ်ယာဝင်များကထည့်မည့်အစုရှယ်ယာ ပမာဏ - ကျပ်သိန်း (၅၀)

(ဃ) မိခင်ကုမ္ပဏီ၏ လုပ်ငန်းဆောင်ရွက်မှုအကျဉ်းချုပ် - -

(င) မိခင်ကုမ္ပဏီ၏ မတည်ငွေရင်းပမာဏ - -

(စ) မိခင်ကုမ္ပဏီ၏ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက်ငွေကြေးထည့်ဝင်နိုင်မှု - -

(ဆ) မိခင်ကုမ္ပဏီ၏နည်းပညာအတွေ့အကြုံများ - -

(၇)

၆။ မတည်ရင်းနှီးငွေနှင့်သက်ဆိုင်သည့် အချက်အလက်များ -

ကျပ် (သန်းပေါင်း)

(က) ပြည်တွင်းမှ ထည့်ဝင်သည့် မတည်ငွေရင်း - (၂၅၀၀) ကျပ်သန်း
ပမာဏ/ရာခိုင်နှုန်း

(ခ) နိုင်ငံခြားမှယူဆောင်လာသည့် မတည်ငွေရင်း - -
ပမာဏ/ရာခိုင်နှုန်း

စုစုပေါင်း - (၂၅၀၀) ကျပ်သန်း

၇။ စီးပွားဖြစ်မစတင်မီ ရင်းနှီးထည့်ဝင်မည့်ငွေပမာဏ - ____________

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း - ( ၃၀ ) နှစ်

၉။ ဆောင်ရွက်မည့်စီးပွားရေးအဖွဲ့အစည်းနှင့်သက်ဆိုင်သော အချက်အလက်များ -

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသ (များ) / တည်နေရာ - ဦးပိုင်အမှတ် (၆၃၃)၊ ကွင်းအမှတ် (၆/O.S.S)၊ ဒုံဖီကြေးတိုင်ပြင်ကွင်း၊ စံပြကျေးရွာ၊ ဒုံဖီကျေးရွာအုပ်စု၊ လမိုင်းမြို့၊ ရေးမြို့နယ် ။

(ခ) ရင်းနှီးမြှုပ်နှံမှုတန်ဖိုး / ပမာဏ - ( ၂၅၀၀ ) ကျပ်သန်း

၁၀။ သက်ဆိုင်ရာအဖွဲ့အစည်းများ၏ ခွင့်ပြုချက်၊ လိုင်စင်၊ ပါမစ်စသည်တို့ရရှိပြီးပါက ပူးတွဲတင်ပြရန်။

၁၁။ လုပ်ငန်းစတင်ဆောင်ရွက်နေခြင်း ရှိ ☐ မရှိ ☐

ရှိပါက လုပ်ငန်းဆောင်ရွက်မှုအခြေအနေကို ဖော်ပြပေးရန်

..............................................................................................................

၁၂။ နည်းပညာလွှဲပြောင်း ယူဆောင်လာမည့်အစီအစဉ် ..............................................

..............................................................................................................

၁၃။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ အောက်ဖော်ပြပါ လျှောက်ထားလွှာများကိုတင်ပြလျှောက်ထားခြင်း ရှိ/မရှိ ဖော်ပြရန် ။

မြေအသုံးပြုခွင့် လျှောက်ထားလွှာ

အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်လျှောက်ထားလွှာ

လျှောက်ထားသူလက်မှတ်

အမည် ........................................ U Thein Win

ရာထူး ........................................ Director

Myanmar Sein Lin Co., Ltd.

ဌာန/ကုမ္ပဏီတံဆိပ် ..............................



ကတိဝန်ခံချက်

အထက်ဖော်ပြပါ လျှောက်ထားသူမှ ပေးအပ်သည့် အချက်အလက်များအားလုံးသည် မှန်ကန်မှု ရှိပါကြောင်း အာမခံပါသည်။

ဤအတည်ပြုလျှောက်ထားလွှာတွင် အတည်ပြုမိန့်ထုတ်ပေးရန်အတွက် ကော်မရှင်မှ စိစစ်ရာ၌ လိုအပ်သည့်အချက်အလက်များကို လျှောက်ထားသူကပေးအပ်ရန် ပျက်ကွက်ပါက အတည်ပြုလျှောက်ထားလွှာကို ငြင်းပယ်ခြင်း သို့မဟုတ် စိစစ်ရာ၌ မလိုလားအပ်သည့် နှောင့်နှေးကြန့်ကြာခြင်းတို့ဖြစ်ပေါ်နိုင်ကြောင်း ကောင်းစွာသဘောပေါက်နားလည်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ချမှတ်မည့်စည်းမျဉ်းစည်းကမ်းများကိုလည်း လိုက်နာမည် ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

လျှောက်ထားသူလက်မှတ်

အမည် U Thein Win

ရာထူး Director, Myanmar Sein Lin Co., Ltd.

ဌာန/ကုမ္ပဏီတံဆိပ်



Form (4 - B)

# Endorsement Application Form

To,

**Chairman**

**Mon State Investment Committee**

Reference No.

Date. 28 September 2019

I do apply for the endorsement in accordance with the Section 37 of the Myanmar Investment Law by furnishing the following particulars:

1. The Investor's :-

(a) Name ............ U Thein Win ............

(b) Company Registration No/ ID No/ National Registration Card No /Passport ............ 13/ LA YA NA (N) 036705 ............

(c) Citizenship ............ Myanmar ............

(d) Address/ Address of Registered Office ............ No. 288/290, Room No. 905, MWEA Tower, Shwedagon Pagoda Road, Dagon Township, Yangon.

(e) Phone /Fax / E -mail: ............ 09- 5003063 ............

(f) Type of Business(to describe in detail) Manufacturing of plywood product and rubber woods sawn timber

(g) Proposed investment's supply chain and benefits to the other related businesses: Domestic workers to access job, learning technologies and management knowledge from foreign countries and foreign Investment

**Note:** The following documents need to be attached according to the above paragraph (1) :-

(1) Company Registration Certificate (copy);

(2) ID No/ National Registration Card (copy) and Passport (copy);

2. If the investor don't apply for endorsement by himself / herself, the applicant;

(a) Name ............ - ............

(b) Name of contact person ............ - ............
(if applicant is business organization)

**Note**: describe with attachment of letter of legal representative

(c) ID No./ National Registration Card No./Passport No. ............ - ............

(d) Citizenship ............ - ............

(e) Address in Myanmar : ............ - ............

Tract, Ye Township

(f) Phone / Fax : ............ - ............

(g) E-mail : ............

3. Type of business organization to be formed:-

☑ One Hundred Percent ☐ Joint Venture ( To attach the draft of JV agreement)

☐ Type of Contractual Basis (To attach draft contract/agreement)

Share Ratio (Local) ............ 100 % ............

Share Ratio( Government Department/Organization) ............

Share Ratio( Foreigner) ............

4. List of Shareholders Owned 10 % of the Shares and Above

| No | Name of Shareholder | Citizenship | Share Percentage |
|---|---|---|---|
| 1 | Daw Khin Thandar Win | Myanmar | 98 % |
| 2 | U Thein Win | Myanmar | 2 % |

5. Particulars of Company Incorporation

(a) Authorized Capital ............ Private Limited By Shares ............

(b) Type of Share ............ Ordinary ............

(c) Number of Shares ............ 500 ............

............

(d) Profile of Parent Company ............ - ............

(e) Parent Company's Paid-up Capital Amount ............ - ............

(f) Parent Company's Capital Contribution ............ - ............

in proposed investment project ............

(g) Parent Company's Technical Experiences ............ - ............

**Note:** Memorandum of Association and Articles of Association of the Company shall be submitted with regard to above paragraph 5.

6. Particulars of Paid-up Capital of the Investment

**Kyat/US$ (million)**

(a) Amount/Percentage of local capital to be contributed ............ 2500.000 million Kyat ............

(b) Amount/Percentage of foreign capital to be brought in ..........-..........

Total 2500.000 million Kyat

7. Contribution of Paid-up Capital amount before commercial operation ..........-..........

8. Investment Period ..........30 years..........

9. Particulars of the Investment Project-

(a) Investment location(s)/place(s) Holding No. 643, Kwin No.6/O.S.S, Don Phee Kyay Tai Pyin Kwin , San Pya Village , Don Phee Village Tract, La Mine Town, Ye Township.

(b) Amount of Investment 2500.000 million Kyat

10. The liscense, Permit, Permission, and etc; of the relevant organizations shall be attached if they are received.

11. Commencement of Business Yes ☐ No ☑

If it is commenced, describe the performance of business activities;

.......................................................................................................

12. Technology Transfer Plan ..........-..........

13. Describe whether other applications are being submitted together with the Endorsement Form or not:

☐ Land Rights Authorization Application

☐ Tax Incentive Application

Signature of the applicant

Name: U Thein Win

Title: Director

Department /Company Myanmar Sein Lin Co., Ltd

(Seal/Stamp)

Date:--------------------------

**Undertaking**

I / We hereby declare that the above statements are true and correct to the best of my/our knowledge and belief.

I /We fully understand that endorsement application may be denied or unnecessarily delayed if applicant fails to provide required information to access by Commission for issuance of endorsement.

I/We hereby declare to strictly comply with terms and conditions set out by the Myanmar Investment Commission .

Signature of the applicant

Name: U Thein Win
Title: Director
Department /Company Myanmar Sein Lin Co., Ltd
(Seal/Stamp)

Date:----------------------------

(၆)



**MYANMAR SEIN LIN CO., LTD**
No. 288/290, Rm. 905, MWEA Tower, Shwedagon Pagoda Road, Dagon Township, Yangon, MYANMAR
Tel : 0095-1-204108, 250793 Fax : 0095-1-256339 e-mail : mmseinlin@gmail.com

သို့

ဥက္ကဋ္ဌ
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
မော်လမြိုင်မြို့

ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ စက်တင်ဘာလ ၂၈ ရက်

အကြောင်းအရာ။ လုပ်ငန်းဆောင်ရွက်ထားရှိပုံနှင့် လုပ်ကိုင်ဆောင်ရွက်မည့် ကိစ္စများအား တင်ပြခြင်း

အထက်အကြောင်းအရာပါ ကိစ္စနှင့် ပတ်သက်၍ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ လမိုင်းမြို့၊ စံပြကျေးရွာ၊ ဒုံဖီကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်(၆၄၃)၊ ကွင်းအမှတ်( ၆/O.S.S)၊ ဒုံဖီကြေးတိုင်ပြင်ကွင်း၊ မြေဧရိယာ (၂.၀၁) ဧကတွင် ပြည်တွင်းရင်းနှီးမြှုပ်နှံမှုဖြင့် ရာဘာသစ်ခွဲသား စက်ရုံတည်ဆောက်ထားပါသည်။ ဒေသအတွင်းရှိ အစေးမထွက်တော့သည့် ရာဘာပင်အို/ဟောင်းများ ထင်းအဖြစ်အသုံးပြုရာမှ တန်ဘိုးမြှင့် ရာဘာသစ်ခွဲသားထုတ်လုပ်ရန်၊ ရာဘာလုပ်ငန်းရှင်များ ဝင်ငွေတိုးရန်၊ ဒေသခံပြည်သူများအား အိမ်နီးချင်းနိုင်ငံများသို့ မိတကွဲ၊ ဖတကွဲ သွားရောက်အလုပ် လုပ်စရာမလိုပဲ မိသားစုနှင့်အတူ မကွဲမကွာ အလုပ်အကိုင် အခွင့်အလမ်းများ ရရှိစေရန် ရည်မှန်းပြီး ရာဘာသစ်ခွဲသားများအားလုပ်ငန်းလုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့်ထုတ်ပေးနိုင်ရန် လျှောက်ထားအပ်ပါသည်။

ကျွန်တော်များ ကုမ္ပဏီအနေဖြင့် ရာဘာသစ်ခွဲသားနှင့် သစ်ပါးလွှာ ထုတ်လုပ်ခြင်းလုပ်ငန်းလုပ်ကိုင်ရန်အတွက် စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု ကျပ်သန်း(၂၅၀၀) အား ရင်းနှီးမြှုပ်နှံမည် ဖြစ်ပါသည်။ လုပ်ငန်းမှ ရရှိသော အမြတ်ငွေများကိုလည်း မြန်မာနိုင်ငံအတွင်း အခြားခွင့်ပြုထားသည့် စီးပွားရေးလုပ်ငန်းများတွင် ပြန်လည်ရင်းနှီးထားရန် ရည်ရွယ်ပါသည်။ ဝန်ထမ်းများနည်းပညာတိုးတက်မှုရရှိခြင်းနှင့် အလုပ်အကိုင်အခွင့်အလမ်းများလည်း ရရှိခြင်းတို့ကို အကျိုးဖြစ်ထွန်းစေမည်ဖြစ်ပါသည်။ စက်ရုံလုပ်ငန်းလည်ပတ်မည့် အစီအစဉ်များနှင့် ဆောင်ရွက်ရန်ရှိသည့် အကြောင်းအရာများမှာ အောက်ပါအတိုင်း ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

ပြည်တွင်းရာဘာသစ်ကုန်ကြမ်းရရှိရေးအတွက် မွန်ပြည်နယ်ဒေသအတွင်းရှိ အစေးမထွက်တော့သည့် ရာဘာပင်အို/ ပင်ဟောင်းများအား ရာဘာပင်အိုရောင်းချသူများနှင့် ဆက်သွယ်၍ ရာဘာပင်အို/ပင်ဟောင်းများအား စာချုပ်ချုပ်ဆို၍သော်လည်းကောင်း၊ တိုက်ရိုက်ဝယ်ယူခြင်းလည်းကောင်း ဝယ်ယူသွားမည်ဖြစ်သည်။ အဆိုပါရာဘာသစ်ကုန်ကြမ်းများအား သစ်ခွဲစက်တွင်

ခွဲစိတ်ကာ VACUUM PRESSURE ဖြင့် ဆေးစိမ်ကာ KILN DRYER ၌ (၁၀) ရက်ဝန်းကျင်ခန့် အခြောက်ခံရပါမည်။ ယင်းနောက် အရည်အသွေးစစ်ဆေးမှုများ ဆောင်ရွက်ကာ စနစ်တကျ ထုတ်ပိုး၍ ဈေးကွက်သို့ တင်ပို့မည်ဖြစ်ပါသည်။ ထုတ်ပိုးပြီး ရာဘာခွဲသားများအား ပရိဘောဂပြုလုပ်ရာတွင် အသုံးပြုရမည်ဖြစ်ပါသည်။ နိုင်ငံတော်အတွက် တစ်ဖက်တစ်လမ်းမှ နိုင်ငံခြားငွေရှာဖွေခြင်း လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ပါသည်။ လစဉ်ရာဘာသစ်ခွဲသား (၁၂၀၀ CBM) ဝန်းကျင်အား ပြည်ပသို့ တင်ပို့နိုင်ရန် ဆောင်ရွက်သွား မည်ဖြစ်ပါသည်။

ရာဘာသစ်ပါးလွှာထုတ်လုပ်ခြင်းနှင့်ပတ်သက်ပြီး ပြည်တွင်းရာဘာပါးလွှာ ကုန်ကြမ်းရရှိရေးအတွက် မွန်ပြည်နယ်ဒေသအတွင်းရှိ အစေးမထွက်တော့သည့် ရာဘာပင်အို/ ပင်ဟောင်းများအား ရာဘာထုတုံးထုတ်လုပ်သူများနှင့် ဆက်သွယ်၍ နေ့စဉ် တန်(၃၀)ခန့်အား ဝယ်ယူ၍ ရာဘာပါးလွှာများ ထုတ်လုပ်ခြင်းနှင့် အခြားရာဘာပါးလွှာစက်ရုံများမှ ရာဘာပါးလွှာများဝယ်ယူရပါသည်။ ထို့နောက် အဆိုပါ ရာဘာပါးလွှာများအား ကော်ကပ်စက်များဖြင့် ကော်ကပ်ကာ အအေးဖိစက်နှင့် အပူဖိစက်များဖြင့် ကျစ်လစ်အောင်ဖိပေးရပါသည်။ ဆက်လက်ပြီး Face/Back ပါးလွှာများအတွက် ပြည်တွင်းစက်ရုံများမှ ဝယ်ယူ၍သော်လည်းကောင်း၊ ပြည်ပမှ တင်သွင်း၍သော်လည်းကောင်း ရရှိနိုင်ရေး ဆောင်ရွက်ကာ အဆိုပါ Face/ Back ပါးလွှာများ၊ ရာဘာပါးလွှာများနှင့် COATING FILM များပေါင်းပြီး အအေးဖိစက်၊ အပူဖိစက်များဖြင့် PRESS လုပ်ပေးရသည်။ ထွက်ရှိလာသော PLYWOOD အကြမ်းများအား ဘေး/ထိပ်များဖြတ်ကာ ကော်ပတ်အချောစားပြီး ကုန်ချော အထပ်သားများရရှိနိုင်ပါမည်။ ရရှိလာသည့် အထပ်သားများအား စီစစ်ရွေးချယ်ကာ ပြည်တွင်းတွင် ဖြန့်ဖြူးခြင်းလုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ပါသည်။ လစဉ် ရာဘာအထပ်သား (၁၅၀၀CBM) ဝန်းကျင်ခန့်အား ထုတ်လုပ်ပြီး ဖြန့်ဖြူးနိုင်ရန် ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

အဆိုပါလုပ်ငန်းများအတွက် လျှပ်စစ်ဓာတ်အားအသုံးပြုရာတွင် GENERATOR ( 350 ) KVA (၁)လုံး၊ GENERATOR ( 625) KVA (၁)လုံး၊ GENERATOR ( 500 ) KVA (၁)လုံး၊ GENERATOR ( 250 ) KVA (၁)လုံး စုစုပေါင်း GENERATOR (၄)လုံးကို အသုံးပြု ဆောင်ရွက်သွားမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်းအတွက် လိုအပ်သောရေကို အဝီစိတွင်း( ၁ ) တွင်းတူးထားပြီး ရယူဆောင်ရွက်သွားမည် ဖြစ်ပါသည်။

အဆိုပါလုပ်ငန်းအတွက် လိုအပ်သော စက်သုံးဆီပမာဏမှာ တစ်လလျှင် ဂါလံ (၆၀၀၀) ခန့် ရှိပါသည်။

အဆိုပါလုပ်ငန်းအတွက် တည်ဆောက်ရေးကာလမှာ ( ၆ )လ ဖြစ်ပါသည်။

အဆိုပြုလုပ်ငန်းလျှောက်ထားရာတွင် ဝန်ထမ်းများ၏ အခြေခံလစာငွေကို အခြေခံလစာ အနိမ့်ဆုံး လုပ်ခသတ်မှတ်ထားသည့် ဥပဒေအတိုင်း လုပ်ခလစာများကို ပေးအပ်သွားပါမည်။

